

ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၅၇ /၂၀၁၂ ။ ၂၀၁၂ ခုနှစ်၊ ဇူလိုင် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးစန်းမောင်

(ခ) အဘ အမည် ဦးအိုက်လှိုင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/တကန (နိုင်) ၁၄၅၇၂၅

(ဃ) နေရပ်လိပ်စာ အမှတ် (၁၀၈)၊ ဘုံကျောင်းလမ်း၊ ကန်ရှေ့ရပ်ကွက်၊တောင်ကြီးမြို့နယ်၊ ရှမ်းပြည်နယ်တောင်ပိုင်း။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Myanmar Soe San Win Manufacturing Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) အမှတ်(၂-၃)၊အမှတ်(၄)လမ်း၊မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ငွေပင်လယ်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၁၆.၀၀(သန်း)(အမေရိကန်ဒေါ်လာ(၀.၁၂)သန်းအပါအဝင် စုစုပေါင်းကျပ် တစ်ရာ၊တစ်ဆယ့်ခြောက်သန်းတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၆ / ၂၀၁၂ (မနသ)
နေပြည်တော်၊ ၁၃၇၄ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၁၃ ရက်
(၂၀၁၂ခုနှစ်၊ ဇူလိုင် လ ၃၁ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော Myanmar Soe San Win Manufacturing Co.,Ltd. သည် မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါ်လီဖိန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး ၊ လှိုင်သာယာ မြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၂၄)၊ အမှတ်(၄)လမ်း၊ အမှတ် (၂-၃)ရှိ မြေကွက်(၂)ကွက် (၅.၅၄၆) ဧက နှင့် အဆောက်အဦအား ငှါးရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၁၂) (၂၅-၇-၂၀၁၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myanmar Soe San Win Manufacturing Co.,Ltd. အား CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၅၇/၂၀၁၂ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Soe San Win Manufacturing Co.,Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏ ကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%)အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစား

ပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ) အရ ပြည်ပမှတင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

၄။ Myanmar Soe San Win Manufacturing Co.,Ltd. သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်း ချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Myanmar Soe San Win Manufacturing Co.,Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့်အဆောက်အဦ အငှားချထားသူ ဒေါ်လီဖိန်း နှင့် အငှားချထားခြင်းခံရသူ ဦးစန်းမောင် (Myanmar Soe San Win Manufacturing Co.,Ltd.)တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့်စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Myanmar Soe San Win Manufacturing Co.,Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၉။ Myanmar Soe San Win Manufacturing Co.,Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက်လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၀။ Myanmar Soe San Win Manufacturing Co.,Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက် ရမည်။

၁၁။ Myanmar Soe San Win Manufacturing Co.,Ltd. သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက်

အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ Myanmar Soe San Win Manufacturing Co.,Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၂၈ /၂၀၁၂( ၉၆၉၂ - ၁)
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ ဇူလိုင် လ ၃၁ ရက်

ကန့်သတ်



**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ကန့်သတ်

# ကန့်သတ်

၆

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ စက်မှုထုတ်လုပ်မှု လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်
မန်းနေးဂျင်းဒါရိုက်တာ၊ Myanmar Soe San Win Manufacturing Co.,Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၂၈/၂၀၁၂( ၃၃၇၆ )

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဇူလိုင် လ ၂၄ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Myanmar Soe San Win Manufacturing Co.,Ltd. မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြ ခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Myanmar Soe San Win Manufacturing Co.,Ltd. မှ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါ်လီဖိန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး ၊ လှိုင်သာယာ မြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၂၄)၊ အမှတ်(၄)လမ်း၊ အမှတ် (၂-၃)ရှိ မြေကွက်(၂)ကွက် (၅.၅၄၆) ဧက နှင့် အဆောက်အဦအား ငှါးရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစန်းမောင် (အဘ-ဦးအိုက်လှိုင်)မှ အဆိုပြု တင်ပြလာ ပါသည်။

၂။ Myanmar Soe San Win Manufacturing Co.,Ltd. အဆိုပြုချက် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့၊ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ နှင့် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်းချုပ် တို့သို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) အဆိုပြုတင်ပြသည့် CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ပါက လုပ်သားအင်အား (၆၅၀)ဦးခန့်ထားပြီး နည်းပညာ သင်ကြားလေ့ကျင့်ပေးမည် ဖြစ်သဖြင့် အလုပ်အကိုင်ရရှိခြင်း၊ နည်းပညာ တတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင်ရရှိမှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၂) အဆိုပြုမြေနေရာနှင့် အဆောက်အဦမှာ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှု ဇုန်ရှိ(၅.၅၄၆)ဧက အကျယ်အဝန်းရှိသောမြေနေရာတွင် (၁၂၀ပေx၂၆၀ပေ)ရှိ အဆောက်အဦ (၁)လုံး နှင့် (၃၀ပေ x ၄၀ပေ) နှစ်ထပ်ရုံးခန်း အဆောက်အဦ

(၁)လုံး ရှိပြီး မြေမှာ ဇုန်မြေများဖြစ်သဖြင့် မြေနေရာ သုံးစွဲခြင်းနှင့် ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း၊

(၃) သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါကြောင်း နှင့်

(၄) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏(၁၆/၂၀၁၂) (၂၆-၄-၂၀၁၂) အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(၃၂)အရ Myanmar Soe San Win Manufacturing Co.,Ltd.၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ** ။ Myanmar Soe San Win Manufacturing Co.,Ltd. မှ သတ်မှတ် Norm အရ ထုတ်လုပ်မည့် ကုန်ချော ပမာဏနှင့် ကုန်ကြမ်းလိုအပ်ချက်မှာ Wastage% (၁၀)% အတွင်း ရှိသဖြင့် အချိုးအစား ညီညွတ်မှုရှိ၍ CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်း လုပ်ငန်းကို အားပေး ဆောင်ရွက်သင့်ပါကြောင်း၊ **(နောက်ဆက်တွဲ - ခ)**

(ဂ) **ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ်**။ Myanmar Soe San Win Manufacturing Co.,Ltd. မှ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ် (၂၄)၊ မြေကွက် အမှတ် (၂၃)ရှိ မြေကွက် နှစ်ကွက် (၅.၅၄၆) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန်မရှိ ပါကြောင်း၊ **(နောက်ဆက်တွဲ - ဂ)**

၃။ လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - ဃ)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၁၂)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁၆.၀၀) သန်းဖြစ်ပြီး၊ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ တန်ဖိုး အမေရိကန်ဒေါ်လာ(၀.၁၂)သန်း ဖိုးအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၁၆.၀၀ သန်း US$ (၀.၁၂)သန်းအပါအဝင်**

| | | |
|---|---|---|
| (က) | ငွေသား | ၁၂.၇၈ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၃.၅၅ US$ (၀.၁၂)သန်းအပါအဝင် |
| (ဂ) | ပရိဘောဂ | ၉၉.၆၇ |

၅။ အဆိုပြုလုပ်ငန်းမှ ချုပ်လုပ်ပြီး ဖိနပ်များကို ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့ရောင်းချပြီး ပြည်တွင်း၌ (၁)ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် CMP လက်ခနှုန်း၊ ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခ တစ်ဒါဇင်နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေး နှုန်း (ကျပ်) |
|---|---|---|---|---|
| | **(Fully)** | | | |
| ၁။ | Man (Boot) | ၁၂၅၀၀ | ၁၃.၈၀ | ၅၈၀၀၀ |
| ၂။ | Man (Shoe) | ၁၂၅၀၀ | ၁၁.၈၀ | ၄၈၀၀၀ |
| ၃။ | Man (Slipper) | ၁၀၀၀၀ | ၇.၈၀ | ၃၈၀၀၀ |
| ၄။ | Woman (Boot) | ၁၀၀၀၀ | ၁၁.၈၀ | ၄၈၀၀၀ |
| ၅။ | Woman (Shoe) | ၁၀၀၀၀ | ၇.၈၀ | ၃၈၀၀၀ |
| ၆။ | Woman (Slipper) | ၇၅၀၀ | ၅.၈၀ | ၃၃၀၀၀ |
| ၇။ | Children(Boot) | ၁၇၅၀၀ | ၇.၈၀ | ၃၈၀၀၀ |
| ၈။ | Children (Shoe) | ၁၅၀၀၀ | ၅.၈၀ | ၃၃၀၀၀ |
| | Children (Slipper) | ၁၅၀၀၀ | ၄.၈၀ | ၂၈၀၀၀ |
| | **စုစုပေါင်း** | **၁၂၀၀၀၀** | | |

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ် ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေး နှုန်း (ကျပ်) |
|---|---|---|---|---|
| | **(Semi)** | | | |
| ၁။ | Man (Boot) | ၈၀၀၀ | ၈.၄၀ | ၅၈၀၀၀ |
| ၂။ | Man (Shoe) | ၅၀၀၀ | ၇.၄၀ | ၄၈၀၀၀ |
| ၃။ | Man (Slipper) | ၅၀၀၀ | ၅.၄၀ | ၃၈၀၀၀ |
| ၄။ | Woman (Boot) | ၅၀၀၀ | ၇.၄၀ | ၄၈၀၀၀ |
| ၅။ | Woman (Shoe) | ၃၀၀၀ | ၅.၄၀ | ၃၈၀၀၀ |
| ၆။ | Woman (Slipper) | ၃၀၀၀ | ၄.၄၀ | ၃၃၀၀၀ |
| ၇။ | Children(Boot) | ၇၀၀၀ | ၅.၄၀ | ၃၈၀၀၀ |
| ၈။ | Children (Shoe) | ၇၀၀၀ | ၄.၄၀ | ၃၃၀၀၀ |
| | Children (Slipper) | ၇၀၀၀ | ၃.၄၀ | ၂၈၀၀၀ |
| | **စုစုပေါင်း** | **၅၀၀၀၀** | | |

*လုပ်သားတစ်ဦးလျှင် တစ်နေ့ ဖိနပ်(၁၁)ရန် ထုတ်လုပ်နိုင်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၈၄၀ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁.၂၀ | ၁၀၁၆.၄၀ | ၆၄.၃၃ | ၁၀၈၁.၄၉ |
| (ခ) | အသုံးစရိတ် | - | - | ၈၉၄.၂၈ | ၁၀၂၂.၉၄ |
| (ဂ) | အသားတင် အမြတ် | ၁.၂၀ | ၁၀၁၆.၄၀ | (-)၉၅၈.၆၁ | ၅၈.၅၅ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်(၁၉.၅၂)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၃)နှစ် အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၃၇.၈၇) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၆၃၅) ဦးနှင့် ပြည်ပလုပ်သား(၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး အတွက် အလုပ်သမားများအတွက် ထမင်းစားဆောင်နှင့် နားနေဆောင်တို့စီစဉ်ထားပေးမည် ဖြစ်ပါကြောင်း၊ မတော်တဆ ထိခိုက်ဒဏ်ရာရရှိပါက အချိန်မီကုသနိုင်ရန် ကြက်ခြေနီဆေးသေတ္တာများ ထားရှိပေးမည် ဖြစ်ပါကြောင်း၊ ကြို့ပို့ဖယ်ရီ စီစဉ်ပေးထားမည် ဖြစ်ပါကြောင်း၊ ရေချိုးခန်း(၄)ခန်းနှင့် ရေအိမ်သာ (၂၀)လုံးတို့ကို ထားရှိပေးမည်ဖြစ်ပါကြောင်း၊ ရက်မပျက်ဆုကြေးနှင့် အခြားဆုကြေးများ ခံစားခွင့် ပေးမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးစန်းမောင် အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက်ရှိ (၂၀-၃-၂၀၁၂) နေ့ရှိ ငွေလက်ကျန် ကျပ်(၅၀.၁၀)သန်း ရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် MICB ဘဏ်ရှိ (၅-၃-၂၀၁၂)နေ့ရှိ ငွေလက်ကျန် US$(၀.၀၅၄)သန်း ရှိကြောင်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများတန်ဖိုး US$(၀.၁၂)သန်း၏(၄၅%) နှင့် သုံးစွဲမည့်ကျပ်ငွေ ကျပ် (၁၆.၃၃)သန်း အတွက် လုံလောက်စွာ တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်နှင့် မြန်မာ ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ သို့ဖြစ်ပါ၍ Myanmar Soe San Win Manufacturing Co.,Ltd. မှ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါ်လီဖိန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး ၊ လှိုင်သာယာ မြို့နယ်၊ ငွေပင်လယ် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်(၂၄)၊ အမှတ်(၄)လမ်း၊ အမှတ် (၂-၃)ရှိ မြေကွက်(၂)ကွက် (၅.၅၄၆) ဧကနှင့် အဆောက်အဦအား ငှါးရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(တင်ကိုဝင်း၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၂ / ၃ - ၆ ( ၂ ) / စီးပွား
ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ မေ လ ၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၃-၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၂၂၈/၂၀၁၂ (၄၇၉၇)

၁။ မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Myanmar Soe San Wim Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၄)၊ အမှတ်(၄)လမ်း၊ မြေကွက်အမှတ် (၂၊ ၃)ရှိ မြေ (၅. ၅၄၆) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက် အဦများ အားငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

(က) အဆိုပြုတင်ပြသည့် CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ပါက လုပ်သားအင်အား(၆၅၀)ဦး ခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် အလုပ်အကိုင်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုနှင့် အလုပ်အကိုင်ရှိမှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ခ) အဆိုပြုမြေနေရာနှင့်အဆောက်အဦမှာ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်ရှိ (၅. ၅၄၆)ဧကအကျယ်အဝန်းရှိသောမြေနေရာတွင် (၁၂၀ ပေ × ၂၆၀ ပေ)ရှိ အဆောက်အဦ(၁)လုံးနှင့် (၃၀ ပေ × ၄၀ ပေ) နှစ်ထပ်ရုံးခန်းအဆောက်အဦ(၁)လုံးရှိပြီး မြေမှာဇုန်မြေများဖြစ်သဖြင့် မြေနေရာသုံးစွဲခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါ။

(ဂ) သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၂၆-၄-၂၀၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၆/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၂)အရ မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Myanmar Soe San Wim Manufacturing Co.,Ltd) ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )

ဝန်ကြီးချုပ်

**မိတ္တူကို**

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Myanmar Soe San Wim Manufacturing Co.,Ltd)
လက်ခံစာတွဲ
မျှောစာတွဲ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၂(၂၂၀၈)

ရက် စွဲ ၊ ၂၀၁၂ ခုနှစ် ဇူလိုင်လ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **မြန်မာစိုးစံဝင်း ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Myanmar Soe San Win Manufacturing Co., Ltd) မှ CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၃.၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၂၈/၂၀၁၂(၄၇၉၈)

၂။ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏ ၂၄.၄.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၂(၂၂၆၃)

၃။ Myanmar Soe San Win Manufacturing Co., Ltd ၏ ၁၂.၆.၂၀၁၂ ရက်စွဲပါတင်ပြစာ

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၆.၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၂၈/၂၀၁၂(၇၈၂၁-ဇ)

၁။ Myanmar Soe San Win Manufacturing Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်၊ အမှတ်(၂၄)၊ အမှတ်(၄)လမ်း၊ မြေကွက်အမှတ်(၂၃)ရှိ မြေကွက်နှစ်ကွက်(၅.၅၄၆)ဧကတွင် CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဥ်း၍ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားပြန်ကြားခဲ့ပါ သည်။

၂။ CMP လုပ်ငန်းကြီးကြပ်ရေးကော်မတီ သဘောထားမှတ်ချက်အရ Fully Production နှင့် Semi Production တို့အပေါ်တွင် ကုန်ကြမ်းလိုအပ်ချက်များ ကိုက်ညီမှုမရှိ၍ ကုမ္ပဏီမှ အဆိုပြုလွှာအား ပြင်ဆင်ပြီး ရည်ညွှန်း(၃)ပါစာဖြင့် ပြန်လည်တင်ပြလာပါသည်။

၃။ ကုမ္ပဏီမှပြင်ဆင်ပြီး ပြန်လည်တင်ပြလာသည့် အဆိုပြုချက်အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၄)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာပါသည်။

D:/NPT(ET)/S2/CMP/MIC/ Myanmar Soe

၄။ မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ပြန်လည်တင်ပြလာသည့် အဆိုပြုချက်အပေါ် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂၁) အကြီးစားစက်ရုံ၊ လက်ထောက် အထွေထွေမန်နေဂျာ ဒေါ်ကြည်ကြည်နွဲ့မှ ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှုရှိကြောင်း အောက်ပါအတိုင်း တွက်ချက်တင်ပြလာပါသည် -

(က) Man၊ Woman၊ Chilldren (Boot၊ Shoe၊ Slipper)

| ထုတ်လုပ်မှု | Mark Line | Ordinary | Foam | Zipper | Rivets | Buckle | Eyelet |
|---|---|---|---|---|---|---|---|
| Norm အရ Raw တွက်ချက်မှု | ၁၅၁၅ | ၃၀၆၀ | ၁၁၈၅ | ၁၂၀၀ | ၁၈၀၀ | ၁၈၀၀ | ၁၈၀၀ |
| အဆိုပြုချက်အရ | ၁၆၀၀ | ၃၁၅၀ | ၁၁၀၀ | ၁၅၅၀ | ၁၉၀၀ | ၁၉၀၀ | ၁၉၀၀ |
| ခြားနားချက် | ၈၅ | ၉၀ | -၈၅ | ၃၅၀ | ၁၀၀ | ၁၀၀ | ၁၀၀ |
| Wastage % ဆောင်းထားခြင်း | ၅% | ၃% | (-)၈% | ၂၉% | ၅% | ၅% | ၅% |

( ခ ) Man၊ Woman၊ Chilldren (Boot၊ Shoe၊ Slipper)

| ထုတ်လုပ်မှု | Coils | Buckles | Shine Store | Iron Tablets | Claw Nail | Reinforce-Ment | Magic Tape |
|---|---|---|---|---|---|---|---|
| Norm အရ Raw တွက်ချက်မှု | ၁၂၀၀ | ၁၈၀၀ | ၁၂၀၀ | ၁၂၀၀ | ၁၈၀၀ | ၁၁၄၀ | ၃၃၃၀ |
| အဆိုပြုချက်အရ | ၁၃၀၀ | ၁၉၀၀ | ၁၃၀၀ | ၁၃၀၀ | ၁၉၀၀ | ၁၂၀၀ | ၃၅၀၀ |
| ခြားနားချက် | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၆၀ | ၁၇၀ |
| Wastage % ဆောင်းထားခြင်း | ၈% | ၅% | ၈% | ၈% | ၅% | ၅% | ၅% |

( ဂ ) Man၊ Woman၊ Chilldren (Boot၊ Shoe၊ Slipper)

| ထုတ်လုပ်မှု | Fabric | Packing Paper | Inheeve Lable | Injection Rubber | Plastic Bag | Card Board | Ribbon |
|---|---|---|---|---|---|---|---|
| Norm အရ Raw တွက်ချက်မှု | ၁၈၀၀ | ၉၀၀ | ၉၀၀ | ၁၈၀၀ | ၉၀၀ | ၉၀၀ | ၉၀၀ |
| အဆိုပြုချက်အရ | ၁၉၀၀ | ၉၅၀ | ၉၅၀ | ၁၉၀၀ | ၉၅၀ | ၉၅၀ | ၉၅၀ |
| ခြားနားချက် | ၁၀၀ | ၅၀ | ၅၀ | ၁၀၀ | ၅၀ | ၅၀ | ၅၀ |
| Wastage % ဆောင်းထားခြင်း | ၅% | ၃% | (-)၈% | ၂၉% | ၅% | ၅% | ၅% |

(ဃ) Man၊ Woman၊ Chilldren (Boot၊ Shoe၊ Slipper)

| ထုတ်လုပ်မှု | Elastic | Insole Card Board | Hot Meit Glue | Shoe Lace | Cement | Toluelce | Potions |
|---|---|---|---|---|---|---|---|
| Norm အရ Raw တွက်ချက်မှု | ၁၀၂၀ | ၉၀၀ | ၉၀၀ | ၉၀၀ | ၈၁၀ | ၉၀ | ၉၀ |
| အဆိုပြုချက်အရ | ၁၁၀၀ | ၉၅၀ | ၉၅၀ | ၉၅၀ | ၈၅၀ | ၉၅ | ၉၅ |
| ခြားနားချက် | ၈၀ | ၅၀ | ၅၀ | ၅၀ | ၄၀ | ၅ | ၅ |
| Wastage % ဆောင်းထားခြင်း | ၇% | ၅% | ၅% | ၅% | ၅% | ၅% | ၅% |

( င ) Man၊ Woman၊ Chilldren (Boot၊ Shoe၊ Sliper)

| ထုတ်လုပ်မှု | All Lathers | Cloth | Hair | Pu | Sole | Lather Upper | Ruber Outsole |
|---|---|---|---|---|---|---|---|
| Norm အရ Raw တွက်ချက်မှု | ၁၄၇၀ | ၉၀၀ | ၇၂၀ | ၁၈၀၀ | ၁၈၀၀ | ၃၆၀ | ၃၆၀ |
| အဆိုပြုချက်အရ | ၁၅၅၀ | ၉၅၀ | ၇၅၀ | ၁၉၀၀ | ၁၉၀၀ | ၃၆၅ | ၃၆၅ |
| ခြားနားချက် | ၈၀ | ၅၀ | ၃၀ | ၁၀၀ | ၁၀၀ | ၅ | ၅ |
| Wastage % ဆောင်းထားခြင်း | ၅% | ၅% | ၄% | ၅% | ၅% | ၁% | ၁% |

၅။ သို့ဖြစ်၍ မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ သတ်မှတ် Norm အရ ထုတ်လုပ်မည့် ကုန်ချောပမာဏနှင့်ကုန်ကြမ်းလိုအပ်ချက်မှာ Wastage % (၁၀) % အတွင်းရှိသဖြင့် အချိုးအစား ညီညွတ်မှုရှိ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြင့်သိန်း၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊ အလုပ်သမားဝန်ကြီးဌာန)

မိတ္တူကို

- စက်မှုဝန်ကြီးဌာန
- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
  (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
  (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- မြန်မာစိုးစံဝင်း ထုတ်လုပ်မှုကုမ္ပဏီလီမိတက်
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း - ၂၁၄၃၄၄/၂၁၄၃၄၅/၂၁၄၃၄၆/၂၁၄၃၄၇/၂၁၄၃၄၈/၂၁၄၃၄၉။ ဖက်(စ်) - ၉၅-၁-၂၁၄၄၈၄

M1-748
25.5.12

စာအမှတ်။ ဂ/၁/၁/(ဝန်ဆောင်)/၁၁-၁၃(၂၈၃၀)
ရက်စွဲ ။ ၂၀၁၂ ခုနှစ်၊ မေလ ၂၂ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**
ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၉-၃-၂၀၁၂ ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၂၂၈/၂၀၁၂ (၄၇၉၉ )

၁။ မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Soe San Win Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ် (၂၄) ၊အမှတ် (၄)လမ်း၊မြေကွက်အမှတ် (၂၁၃) ရှိမြေကွက်နှစ်ကွက် (၅.၅၄၆)ဧက၊ ရှိမြေတွင် CMP စနစ်ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် မေတ္တာရပ်ခံစာကိုရရှိပါသည်။

၂။ ဤအသင်းချုပ်မှစိစစ်ခဲ့ရာ မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Soe San Win Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၄) ၊အမှတ် (၄)လမ်း၊မြေကွက်အမှတ် (၂၁၃) ရှိမြေကွက်နှစ်ကွက် (၅.၅၄၆) ဧက၊ ရှိမြေတွင် CMPစနစ် ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ရန်ဆောင်ရွက်မည် ဖြစ်ပါကြောင်းနှင့် မိမိတို့စက်မှုဇုန်အတွင်းဆောင်ရွက်မည့်လုပ်ငန်းအတွက် ထောက်ခံပါကြောင်း မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၊ ငွေပင်လယ်ရေလုပ်ငန်းစက်မှုဇုန်၊ စီမံခန့်ခွဲရေး ကော်မတီ၏ ၁၇-၅-၂၀၁၂ ရက်စွဲပါစာအမှတ် ၂၆၀/စီခန့်-ငပလ/၂/၂၀၁၂ နှင့်အတူ မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Soe San Win Manufacturing Co.,Ltd) (မြန်မာကုမ္ပဏီ)နှင့် Aggrement ချုပ်ဆိုထားသည့် HOME FUN (HK) ,LTD(ဟောင်ကောင်)၊ ၏ Company Profile စသည့် အထောက်အထားများကို တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Myanmar Soe San Win Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၄) ၊အမှတ် (၄)လမ်း၊မြေကွက်အမှတ် (၂၁၃) ရှိမြေကွက်နှစ်ကွက် (၅.၅၄၆) ဧက၊ ရှိမြေတွင် CMP စနစ် ဖြင့် ဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။



ဥက္ကဋ္ဌ( ကိုယ်စား )
( မြင့်စိုး၊တွဲဖက်အထွေထွေအတွင်းရေးမှူး )

မိတ္တူကို-

- လက်ခံစာတွဲ၊မျှောစာတွဲ

DataD. Word. U Soe Mvint .mic

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ဆောင်ရွက်ရန်

# အဆိုပြုချက်

# မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်



PROPOSAL OF THE INVESTMENT TO MAKE

MYANMAR CITIZENS INVESTMENT IN THE UNION

OF MYANMAR

**MYANMAR SOE SAN WIN MANUFACTURING COMPANY LIMITED**

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ ဇူလိုင်လ (၂၃) ရက်

အကြောင်းအရာ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အခစား ချုပ်လုပ်မှုစံနစ်(C.M.P)ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု စခွင့်ပြုမိန့် လျှောက်ထားအပ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** ၏ အဆိုပြုလွှာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅)စုံကို ပေးပို့ တင်ပြအပ်ပါသည်။

**ရိုသေလေးစားစွာဖြင့်**

**ဦးစန်းမောင်**
**မန်နေးဂျင်းဒါရိုက်တာ**
**မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်**
**Myanmar Soe San Win Manaufacturing Co., Ltd.**

# Myanmar Soe San Win Manufacturing Co., LTd.

No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.
Tel : 09-56 00292

---

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ ဇွန်လ ( ၁၂ ) ရက်

အကြောင်းအရာ ။ **C.M.P လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏ သဘောထားမှတ်ချက်အရ အဆိုပြုချက် ပြင်ဆင်ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၆-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၂၂၈/၂၀၁၂(၇၅၅၇)

(၂) **C.M.P** လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏ (၂၄-၄-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၂(၂၂၆၃)

၁။ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ငွေပင်လယ်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄)၊ အမှတ်(၄)လမ်း၊ မြေကွက်အမှတ် (၂၊ ၃)ရှိ မြေကွက်နှစ်ကွက် (၅. ၅၄၆)ဧကတွင် **C.M.P** စံနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခဲ့ပါသည်။

၂။ ယင်းကဲ့သို့ လျှောက်ထားရာတွင် **C.M.P** လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ ရည်ညွှန်းချက်(၂)ပါစာအရ သဘောထားမှတ်ချက်နှင့်အညီ လိုအပ်သော ကုန်ကြမ်းများကို ပြင်ဆင်ရန် အကြောင်းကြားခဲ့ပါသည်။

၃။ ယင်းရည်ညွှန်းချက်နှင့်ပတ်သက်၍ **Unit Norm** အရ **Fully Production** နှင့် **Semi Production** တို့အတွက် ကုန်ကြမ်းလိုအပ်ချက်ကို ပြင်ဆင်ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

**ရိုသေလေးစားစွာဖြင့်**

**ဦးစန်းမောင်**
**မန်နေးဂျင်းဒါရိုက်တာ**
**မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်**
**Myanmar Soe San Win Manaufacturing Co., Ltd.**

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ မေလ ( ၃၀ ) ရက်

အကြောင်းအရာ ။ ။ **မြန်မာစိုးစံဝင်း ထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ပြင်ဆင်ချက်များ ပေးပို့တင်ပြခြင်း။**

ကျွန်တော်တို့၏ **မြန်မာစိုးစံဝင်း ထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အခစားချုပ်လုပ်မှုစံနစ် (C.M.P) ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားအပ်ပါသည်။

ယခုအခါ ကျွန်တော်တို့ **မြန်မာစိုးစံဝင်း ထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည် (၃၀. ၃. ၂၀၁၂)နေ့က၊ ညှိနှိုင်းချက် အရ လိုအပ်သောပြင်ဆင်ချက်များကို ပေးပို့တင်ပြအပ်ပါသည်။

**ရိုသေလေးစားစွာဖြင့်**

**ဦးစန်းမောင်**
**မန်နေးဂျင်းဒါရိုက်တာ**
**မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်**
**Myanmar Soe San Win Manaufacturing Co., Ltd.**

## တင်ပြချက်များ

(က) ကျပ်ငွေအထောက်အထားနှင့် ဘဏ်စာရင်း (US$) ကို တင်ပြခြင်း။

(ခ) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (ငွေပင်လယ်ရေလုပ်ငန်းစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ)၏ ထောက်ခံချက်။

(ဂ) မြေငှားခကို ပြန်လည်ပြင်ဆင်ခြင်း။

(ဃ) စက်ပစ္စည်းများကို ပြည်ပမှ မှာယူတင်သွင်းမည်ဖြစ်ခြင်း။

(င) ပြည်ပ လုပ်သားအား ပြန်လည်စိစစ်ပြီးခြင်း။

(စ) Exhibit VII အရှုံးအမြတ်စာရင်းတွင် ဖော်ပြထားသော်

- **Overhead Cost တွင်**

  စက်ရုံကုန်ကျစရိတ်များဖြစ်သော Agent Fee, Factory Fuel, Packing Charges, Fectory Expenses, Wages စသည့်စရိတ်များ

- အလုပ်သမားများအတွက် Transport Charges, Uniform, Meals Charges စသည့်စရိတ်များ

- ပစ္စည်းထုတ်လုပ်မှုအတွက် Document Express Custom Charges, Container Charges, Licence Fee, Maintance & Repairs စသည့်စရိတ်များ

- **Adminstration Express တွင်**

- ဘဏ်စရိတ်၊ သတင်းစာ-စာနယ်ဇင်း၊ ပုံနှိပ်ခ၊ မှတ်ပုံတင်ခ၊ လမဖကြေး၊ စာရေးကရိယာ၊ တယ်လီဖုန်း၊ ခရီးစရိတ်၊ ကားငှားစရိတ် စသည့်စရိတ်များ။

- **Other Charges များ**

  အလှူငွေ၊ ဘဏ်တိုး၊ ကြော်ငြာစရိတ်၊ ဆေးကုသစရိတ် စသည့် စရိတ်များ။

(ဆ) **Depreciation**

စက်ပစ္စည်းနှင့်ပရိဘောဂတို့ တန်ဘိုးလျော့ခြင်းကို သီးသန့်ခွဲခြားပြသထားခြင်း။

(ဇ) ကုန်ကြမ်းတင်သွင်းမည့် အစီအစဉ်နှင့် ကုန်ချောတင်ပို့မည့်အစီအစဉ်တို့ကို (၂၂-၃-၂၀၁၂)နေ့က တင်ပြခဲ့သော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်းအပိုဒ်(၅)၌ ဖော်ပြထားသည့်အတိုင်း ကုန်ကြမ်းနှင့် ပြန်လည်တင်ပို့မည့်ကုန်ချောများကို လေကြောင်း၊ ရေကြောင်း ခရီးဖြင့်သာ ဆောင်ရွက်မည်ဖြစ်ပါသည်။

**Myanmar Soe San Win Manufacturing Co., LTd.**

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**

---

**Inthousand (000)**
**Overhead Cost**

| | | |
|---|---|---|
| စက်ရုံ | | |
| - Agent Fee | 2000 | |
| - Factory Fuel | 9000 | |
| - Packing Charges | 4000 | |
| - Factory Expenses | 2500 | |
| - Wages | 4800 | 22300 |
| | | |
| အလုပ်သမားများ | | |
| - Transport Charges | 4000 | |
| - Uniform | 6500 | |
| - Meals Charges | 16400 | 26900 |
| | | |
| ထုတ်လုပ်မှု | | |
| Document Expenses | 1000 | |
| Custom Charges | 2000 | |
| Containers Charges | 800 | |
| Licence Fee | 500 | |
| Maintance | 1500 | 5800 |
| | | **55000** |

**Administration Expenses**

| | |
|---|---|
| ဘဏ်စရိတ် | 150 |
| သတင်းစာ | 180 |
| ပုံနှိပ်ခ | 900 |
| မှတ်ပုံတင် | 50 |
| လမဖကြေး | 1300 |
| စာရေးကရိယာ | 620 |
| တယ်လီဖုန်း | 1200 |
| ခရီးစရိတ် | 7400 |
| ကားငှားစရိတ် | 13200 |
| | **25000** |

**Other Charges**

| | |
|---|---|
| အလှူငွေ | 1000 |
| ဘဏ်တိုး | 300 |
| ကြော်ငြာခ | 1000 |
| ဆေးကုသစရိတ် | 700 |
| | **3000** |







# မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်
## ငွေပင်လယ်ရေလုပ်ငန်းစက်မှုဇုန်၊ စီမံခန့်ခွဲရေးကော်မတီ
## NGWE PIN LAE MARINE INDUSTRIAL ZONE MANAGEMENT COMMITTEE

ဖုန်း-၀၁-၆၁၃၆၀၃ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီး

Reference No. ၂၆၀/ စီခန့် - ငပလ / ၂ / ၂၀၁၂ Date. ၂၀၁၂ ခုနှစ် မေလ ၁၇ ရက်

# ထောက်ခံချက်

ငွေပင်လယ်ရေလုပ်ငန်းစက်မှုဇုန်၊ မြေကွက်အမှတ် (၂)နှင့် (၃)တွင် ပိုင်ရှင် ဒေါ်လီဖိန်း၊ မှတ်ပုံတင်အမှတ် ၁၃/မဆတ (နိုင်) ၁၃၇၉၇၆ တည်ဆောက်ပြီးစီးသော အဆောက်အဦး၌ Myanmar Soe San Win Manufacturing Co.,Ltd. မှ ဖိနပ်အမျိုးမျိုး ထုတ်လုပ်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။ မိမိစက်မှုဇုန် အတွင်းတွင် ဆောင်ရွက်မည့်လုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံအပ်ပါသည်။

ဥက္ကဋ္ဌ
စီမံခန့်ခွဲရေးကော်မတီ
ငွေပင်လယ်ရေလုပ်ငန်းစက်မှုဇုန်
လှိုင်သာယာမြို့နယ်၊ရန်ကုန်မြို့။

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ မတ်လ (၂၂) ရက်

အကြောင်းအရာ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အခစား ချုပ်လုပ်မှုစံနစ်(C.M.P)ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု စခွင့်ပြုမိန့် လျှောက်ထားအပ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** ၏ အဆိုပြုလွှာကိုလိုအပ်သလို စီစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၂၀)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

San

ဦးစန်းမောင်
မန်နေးဂျင်းဒါရိုက်တာ
မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်
Myanmar Soe San Win Manaufacturing Co., Ltd.

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ မတ်လ (၂၂) ရက်

အကြောင်းအရာ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အခစားချုပ်လုပ်မှုစနစ် **(C.M.P)**ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် မည်သည့်နိုင်ငံခြားသားမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်သွားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများကိုပြုလုပ်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၄။ ကျွန်တော်တို့ စက်ရုံမှထွက်ရှိသော ကုန်ချောပစ္စည်းများကို **(C.M.P)**ဖြင့် ပြည်ပသို့ ၉၉% ပြန်လည်တင်ပို့သွားမည်ဖြစ်ပါသည်။

၅။ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည် **(C.M.P)**စနစ်ဖြင့် တင်သွင်းမည့် ကုန်ကြမ်းများနှင့် ပြန်လည်တင်ပို့မည့် ကုန်ချောများကို လေကြောင်း၊ ရေကြောင်း ခရီးဖြင့်သာ ဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ ယခု အဆိုပြုတင်သွင်းသည့် လုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းနှင့် ပြည်တွင်းမှဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်များဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**




၇။ အဆိုပြု(**C.M.P**)လုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသော အခကြေးငွေများကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်၊ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၈။ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်တိုင်းစက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၉။ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည် မဟာဓာတ်အားလိုင်းမှ လျှပ်စစ်မရရှိပါက၊ ကိုယ်ပိုင် Generator စက်ဖြင့် အသုံးပြုမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

**ရိုသေလေးစားစွာဖြင့်**

**ဦးစန်းမောင်**
**မန်နေးဂျင်းဒါရိုက်တာ**
**မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်**
**Myanmar Soe San Win Manaufacturing Co., Ltd.**

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ မတ်လ (၂၂) ရက်

အကြောင်းအရာ ။ **ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၂ နှင့် ပုဒ်မ-၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသော **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ မြေကွက်အမှတ် (၂-၃)၊ အမှတ်(၄)လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၄) ငွေပင်လယ်စက်မှုဇုန်ရှိ (၅. ၅၄၆)ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် မြေနှင့်အဆောက်အဦးငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို အခစား ချုပ်လုပ်မှုစနစ် (C.M.P) ဖြင့် လုပ်ကိုင်ပြီး နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်ရန်၊ ရည်ရွယ်၍ ပြည်ထောင်စုမြန်မာနိုင်ငံ ရင်းနှီးမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေစုစုပေါင်းကျပ် (၁၁၆)သန်းကို မြန်မာကျပ်ငွေဖြင့် ရင်းနှီးထည့်ဝင် မြှုပ်နှံမည်ဖြစ်ပါသည်။ အဆိုပါ ရင်းနှီးမြှုပ်နှံငွေကို ပရိဘောဂအတွက်ကျပ် (၃. ၅၅)သန်း၊ စက်ပစ္စည်းကိရိယာများကို ကျပ် (၉၉. ၆၇) သန်းနှင့် ငွေသားငွေကျပ် (၁၂. ၇၈)သန်းဖြင့် ထည့်ဝင်မည်ဖြစ်ပါသည်။ စက်ကိရိယာပစ္စည်းတန်ဖိုးကျပ် (၉၉. ၆၇)သန်းနှင့် ညီမျှသော အမေရိကန်ဒေါ်လာ(၁၁၈၆၅၀)တန်ဖိုးရှိ စက်ပစ္စည်းများကို နိုင်ငံခြားမှ မှာယူတင်သွင်းမည် ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ ရရှိလာသော အမြတ်ငွေကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသော စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီး မြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ထုတ်လုပ်ရရှိလာသော ကမ္ဘာ့အဆင့်အတန်းမီ အထည်များကို အနည်းဆုံး (၉၉%) (ကိုးဆယ့်ကိုးရာခိုင်နှုန်း) နိုင်ငံခြားသို့ ပြန်လည်တင်ပို့မည် ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်သော်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်သော်လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးပွားရရှိစေရန်အတွက်သော်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေး

Myanmar Soe San Win Manufacturing Co., LTd.
No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.
Tel : 09-56 00292



ဖွံ့ဖြိုးတိုးတက်စေခြင်းအတွက်သော်လည်းကောင်း ရည်ရွယ်၍ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၂ နှင့် ပုဒ်မ-၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ပေးပါရန် ရိုသေလေးစားစွာ လျှောက်ထားအပ်ပါသည်။

၄။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်-

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆိုင်ရာဆောင်ရွက်ရန် အဆိုပြုချက်။

(ခ) လုပ်ငန်းပိုင်းနှင့် ငွေကြေးရေးဆိုင်ရာ အထောက်အထားများ။

(ဂ) လုပ်ငန်း၏ ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ။

(ဃ) ကုမ္ပဏီအသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ။

ရိုသေလေးစားစွာဖြင့်

ဦးစန်းမောင်
မန်နေးဂျင်းဒါရိုက်တာ
မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်
Myanmar Soe San Win Manaufacturing Co., Ltd.

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**

## လုပ်ငန်းသဘာဝနှင့် လျှပ်စစ်ရယူသုံးစွဲမည့်အစီအစဉ်

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်**အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းစက်ရုံ တည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ်(**CMP**)ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားပါသည်။

၂။ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည်မဟာလျှပ်စစ်ဓါတ်အားလိုင်းမှ လျှပ်စစ်မရရှိပါက၊ ကိုယ်ပိုင် Generator စက်ဖြင့်အသုံးပြုမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးစန်းမောင်

မန်နေးဂျင်းဒါရိုက်တာ

မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်

Myanmar Soe San Win Manaufacturing Co., Ltd.

# Myanmar Soe San Win Manufacturing Co., LTd.

**No.108, Bon Kyaung Street, East Kan Ward, Taunggyi Township, Southern Shan State.**
**Tel : 09-56 00292**


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ မတ်လ ( ၂၂ ) ရက်

အကြောင်းအရာ ။ **အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုကာလသတ်မှတ်ခြင်းကိစ္စ။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အခစားချုပ်လုပ်မှုစနစ် (**C.M.P**)ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ **မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်** သည်အဆိုပြုလုပ်ငန်းဖြစ်သော ဖိနပ်ချုပ်လုပ်ငန်း၊ အခစားချုပ်လုပ်မှုစနစ် (**C.M.P**)အတွက် ရင်းနှီးမြှုပ်နှံမှုကာလကို (၃၀)နှစ် ဟုရည်မှန်းထားပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှုကာလ (၁၀)နှစ်ပြီးမြောက်သွားပါက၊ ဒုတိယ(၂၀)နှစ်ကာလအတွက် လုပ်ငန်းကို ပိုမိုတိုးချဲ့လုပ်ကိုင်ဆောင်ရွက်သွားရန်ရည်ရွယ်ထားပါသည်။

**ရိုသေလေးစားစွာဖြင့်**

**ဦးစန်းမောင်**
မန်နေးဂျင်းဒါရိုက်တာ
မြန်မာစိုးစံဝင်းထုတ်လုပ်မှုကုမ္ပဏီလီမိတက်
**Myanmar Soe San Win Manaufacturing Co., Ltd.**

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ

# မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# MYANMAR SOE SAN WIN MANUFACTURING COMPANY LIMITED

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် **"မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်"** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် **၅,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းငါးထောင်တိတိ)** ဖြစ်၍ ငွေကျပ် **၁၀၀,၀၀၀/- (ကျပ်တစ်သိန်းတိတိ)**တန် အစုရှယ်ယာပေါင်း **(၅၀,၀၀၀)**ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်း၊ ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

**(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း။ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊**

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊

**(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊**

**(ဆ) အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊**

**(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများထုတ်လုပ်ခြင်း၊**

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများထုတ်လုပ်ခြင်း၊

**(ဋ) စက်ရုံသုံးပစ္စည်းများထုတ်လုပ်ခြင်း၊**

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊

**(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊**

(ဎ) အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

(၂) အထက်ဖော်ပြပါလုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ၊ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

(၃) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြေငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသောဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | **ဦးစန်းမောင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၄၅၇၂၅ | ၁၀၀ | (signature) |
| ၂။ | **ဒေါ်မူမူအေး**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၃၇၃၁၉ | ၂၀၀ | မူမူအေး |
| ၃။ | **ဒေါ်သက်ထားလှိုင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၂၂၃၂၈ | ၁၇၅ | (signature) |
| ၄။ | **ဒေါ်သက်ထားစုလှိုင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၅၀၄၉၅ | ၂၅ | သက်ထား |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၁-ခုနှစ်၊ ဒီဇင်ဘာလ၊ ၆ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

KYAW AYE

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာစိုးစံဝင်း ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၇(၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီကခန့်အပ်ထားသောဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် **၅,၀၀၀,၀၀၀,၀၀၀/-** **(ကျပ်သန်းငါးထောင်တိတိ)** ဖြစ်၍ ငွေကျပ် **၁၀၀,၀၀၀/-** **(ကျပ်တစ်သိန်းတိတိ)**တန် အစုရှယ်ယာပေါင်း **(၅၀,၀၀၀)** ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်သော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာ များ၏ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆသော အခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများကအသိအမှတ်ပြု ပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါ အားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေ ရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ်ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများကသတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှုမပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၂) ဦးထက်မနည်း၊ (၁၅) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦးစန်းမောင်
(၂) ဒေါ်မူမူအေး
(၃) ဒေါ်သက်ထားလှိုင်
(၄) ဒေါ်သက်ထားစုလှိုင် ------- တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည်မှတ်ချက်များ၊ ဥက္ကဋ္ဌပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာ အနည်းဆုံး (-) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးအထမြောက်ရမည်။အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၃။ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက်အကျိုးသက်ရောက်စေရမည်။

**ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ**

၁၄။မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်းပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မှီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မှီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီးတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသောဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | **ဦးစန်းမောင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၄၅၇၂၅ | ၁၀၀ | |
| ၂။ | **ဒေါ်မူမူအေး**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၃၇၃၁၉ | ၂၀၀ | |
| ၃။ | **ဒေါ်သက်ထားလှိုင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၂၂၃၂၈ | ၁၇၅ | |
| ၄။ | **ဒေါ်သက်ထားစုလှိုင်**<br>အမှတ်(၁၀၈)၊ ဘုံကျောင်းလမ်း၊<br>ကန်ရှေ့ရပ်ကွက်၊ တောင်ကြီးမြို့နယ်၊<br>ရှမ်းပြည်နယ် (တောင်ပိုင်း)။<br>(ကုန်သည်) | မြန်မာ<br>၁၃/တကန (နိုင်)<br>၁၅၀၄၉၅ | ၂၅ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၁-ခုနှစ်၊ ဒီဇင်ဘာလ၊ ၆ ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# MYANMAR SOE SAN WIN MANUFACTURING COMPANY LIMITED



I. The name of the Company is **MYANMAR SOE SAN WIN MANUFACTURING COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liablilty of the members is limited.

V. The authorised capital of the Company is Ks. **5,000,000,000/-** (**Kyats Five Thousand Million Only**) divided into (**50,000**) shares of Ks.**100,000/-** (**Kyats One Hundred Thousand Only**) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**Objectives of Industry and Manufacturing**

(1) To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners.

- **(a) Growing, producing, harvesting, preserving, packaging, milling and manufacturing of agricutural and farm produces.**
- (b) Felling, extracting (with the permission from the authorities concerned), milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
- (c) Livestock breeding, processing and canning of livestock products.
- (d) Fishing, preserving, milling, canning and processing of marine products.
- (e) Producing fertilizers, insecticides and animal feeds.
- **(f) Manufacturing of personal goods.**
- **(g) Manufacturing of household goods.**
- **(h) Manufacturing of vehicles, machineries and spares.**
- (i) Manufacturing of Arts and crafts, lacquerwares and furniture.
- (j) Manufacturing of construction materials and paints
- **(k) Manufacturing of factory utencils.**
- (l) Manufacturing of electrical and electronic goods.
- **(m) Manufacturing of textile, garments and clothings.**
- (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and aborad.

(3) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fits.

*PROVISO: - Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | **U San Maung**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 145725 | 100 | |
| 2 | **Daw Mu Mu Aye**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 137319 | 200 | |
| 3 | **Daw Thet Htar Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 122328 | 175 | |
| 4 | **Daw Thet Htar Su Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 150495 | 25 | |

Yangon. Dated the 6th day of December, 2011.

*It is hereby certified that the persons mentioned above put their signatures in my presence.*

# THE MYANMAR COMPANIES ACT

## PRIVATE COMPANY LIMITED BY SHARES

## Articles Of Association

*OF*

# MYANMAR SOE SAN WIN MANUFACTURING COMPANY LIMITED



1. The regulations contined in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsis tent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

### PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

### CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. **5,000,000,000/-** (**Kyats Five Thousand Million Only**) divided into (**50,000**) shares of Ks.**100,000/-** (**Kyats One Hundred Thousand Only**) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Bord of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to persons, and at the times and places appointed by the Directors. A call may be made payable by instlments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than (2) and not more than (15).

The first Directors shall be:-

(1) U San Maung
(2) Daw Mu Mu Aye
(3) Daw Thet Htar Hlaing
(4) Daw Thet Htar Su Hlaing

8. The Directors may fromtime to time appoint one of their body to the office of the Managing Director for such terms and such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (-) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debentures stocks of the Company charged upon all or any part of the property of the Company (both present and future ) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director , General Manager , Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute conduct , defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Conpany.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange , cheques, promissory notes zreceipts,endorsements,releases, contracts and documents for or on behalf of the Company.

(14) To invest,place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future )as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make , vary and repeal bye- laws for the regulation of the business of the Company , the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceeding general meeting) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits .

## OFFICE STAFF

17. The Company shall maintain an office establisment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-
    - *(1)* ***all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:***
    - *(2)* ***all sales and purchases of goods by the Company ;***
    - *(3)* ***all assets and liabilities of the Company.***

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, ad
subscribed below, are desirous of being formed into a Company i
Association, and we respectively agree to take the number of shares
set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. |
|---|---|---|
| 1 | **U San Maung**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka N<br>(Naing) 1457 |
| 2 | **Daw Mu Mu Aye**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 13731 |
| 3 | **Daw Thet Htar Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 122328 |
| 4 | **Daw Thet Htar Su Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 150495 |

Yangon. Dated the 6th day of December, 2011.

*It is hereby certified that the persons mentioned above put their signatures in my presence.*

AUDITOR

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | **U San Maung**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 145725 | 100 | |
| 2 | **Daw Mu Mu Aye**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 137319 | 200 | |
| 3 | **Daw Thet Htar Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 122328 | 175 | |
| 4 | **Daw Thet Htar Su Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 150495 | 25 | |

Yangon. Dated the 6th day of December, 2011.

*It is hereby certified that the persons mentioned above put their signatures in my presence.*

KYAW AYE
B. Com: (A.A), B.A, CPA
AUDITOR & FINANCIAL CONSULTANT.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | **U San Maung**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 145725 | 100 | |
| 2 | **Daw Mu Mu Aye**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 137319 | 200 | |
| 3 | **Daw Thet Htar Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 122328 | 175 | |
| 4 | **Daw Thet Htar Su Hlaing**<br>No.(108), Bon Kyaung Street,<br>East Kan Ward, Taunggyi Township,<br>Southern Shan State.<br>(Merchant) | Myanmar<br>13/ Ta Ka Na<br>(Naing) 150495 | 25 | |

Yangon. Dated the 6th day of December, 2011.

*It is hereby certified that the persons mentioned above put their signatures in my presence.*

KYAW AYE
B. Com: (A.A), B.A, CPA
AUDITOR & FINANCIAL CONSULTANT.